ကုမ္ပဏီအမည် - Kaung Hein Zabu Company Limited (ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီ လီမိတက်)

လုပ်ငန်း - ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၂-၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) မွန်ပြည်နယ်အစိုးရအဖွဲ့ | ၉-၃-၂၀၁၆ | ၂၂-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ | ၉-၃-၂၀၁၆ | ၂၈-၃-၂၀၁၆ | |
| | (ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၉-၃-၂၀၁၆ | ၂၂-၄-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၉/၂၀၁၆) သို့ တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၅ | MIC အစည်းအဝေးသို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိ | ၁-၇-၂၀၁၆ | | |
| ၆ | MIC အစည်းအဝေးသို့ တင်ပြခြင်း | ၁၃/၂၀၁၆ (၈-၇-၂၀၁၆) | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | **(၁၃၁) ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Kaung Hein Zabu Company Limited (ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီ လီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ဦးပိုင်အမှတ်(၅၆)၊ နှမ်းတစိတ်ကွင်း၊ အကွက်အမှတ်(၈၉၇)၊ နတ်ကြီးချောင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၉၅)၊ လက်ပံကွင်း၊ အကွက်အမှတ်(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N/၁၃၃)၊ ကံ့ကနင်းကွင်း၊ အကွက်အမှတ်(၉၆၂)၊ ဆင်ရွာကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၅၆)၊ ကော့မံဖယ်ကွင်း၊ အကွက်အမှတ်(၉၆၃)၊ အီဖြစ်ကျေးရွာအုပ်စု၊ ပေါင်-ကံ့ကြ ရာဘာခြံ၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ မွန်ပြည်နယ်ရှိ မြေ(၁၀၀၉) ဧက |
| စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၄၇၀.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး ၂၅ နှစ် နှင့် သက်တမ်းတိုး (၅)နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၉ နှစ် နှင့် ၄ လ |
| IRR | - ၁၄.၅% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ၃၈.၆၀ | ၁၅၉.၄၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၆.၃၂ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၃.၂၃ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၄.၉၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၈ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၄၀.၇၆ | ၂၃၅.၀၈၅ |
| ၁၁ | Cost : Benefit | ၁ : ၆ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Hein Zabu Company Limited မှ အမှတ်(၂၇) စက်မှု ကုန်ကြမ်းဌာန (ကျိုက်ထို)၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ပေါင်-ကျုံက ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည် စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် စက်မှု ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Kaung Hein Zabu Company Limited<br>- ဦးဟန်ဦး (အဘ-ဦးကောင်းအိုင်)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည် စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် (၅၆)၊ နှမ်းတစိတ်ကွင်း၊ အကွက်အမှတ် (၈၉၇)၊ နတ်ကြီးချောင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၉၅)၊ လက်ပံကွင်း၊ အကွက်အမှတ်(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(N/၁၃၃)၊ ကျုံကနင်းကွင်း၊ အကွက်အမှတ်(၉၆၂)၊ ဆင်ရွာကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၅၆)၊ ကော့မံဖယ်ကွင်း၊ အကွက်အမှတ်(၉၆၃)၊ အီးဖြစ်ကျေးရွာအုပ်စု၊ ပေါင်-ကျုံက ရာဘာခြံ၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ မွန်ပြည်နယ်။ |
| | မြေဧရိယာ | - ဦးပိုင်အမှတ်(၅၆)၊ နှမ်းတစိတ်ကွင်း၊ အကွက်အမှတ် (၈၉၇)၊ နတ်ကြီးချောင်းကျေးရွာအုပ်စုရှိ မြေ (၅၄.၃၃)ဧက အနက် မြေ (၅၃)ဧက<br>- ဦးပိုင်အမှတ်(၉၅)၊ လက်ပံကွင်း၊ အကွက်အမှတ်(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စုရှိ မြေ (၃၂၄.၅၇)ဧက အနက် မြေ (၃၂၂)ဧက<br>- ဦးပိုင်အမှတ်(N/၁၃၃)၊ ကျုံကနင်းကွင်း၊ အကွက်အမှတ် (၉၆၂)၊ ဆင်ရွာကျေးရွာအုပ်စုရှိ မြေ (၆၁၄.၂၁)ဧက အနက် မြေ (၃၉၅)ဧက |

| | | |
|---|---|---|
| | | - ဦးပိုင်အမှတ်(၁၅၆)၊ ကော့မံဖယ်ကွင်း၊ အကွက်အမှတ် (၉၆၃)၊ အီဗြစ်ကျေးရွာအုပ်စုရှိ မြေ (၃၆၁.၂၅)ဧက အနက် မြေ (၂၃၉)ဧက |
| | | - **စုစုပေါင်း မြေဧရိယာ (၁၀၀၉) ဧက** |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန (ကျိုက်ထို) |
| ၃။ | မြေငှားသက်တမ်း | - ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် (၂) ကြိမ် |
| | မြေငှားရမ်းခ | - ရာဘာ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် (၂) ကြိမ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၄၇၀.၀၀ သန်း** |
| | - ငွေသား | - ကျပ် ၄၀၀.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ/ လုပ်ငန်းသုံးပစ္စည်း | - ကျပ် ၇၀.၀၀ သန်း |
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်း လိုသည့် စက်ပစ္စည်းများ | - စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - **၁၈ ဦး** |
| | ပြည်တွင်း | - ၁၈ ဦး (အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁၈၂,၀၀၀ ကျပ် ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၁၈၃.၅၆ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၄၅.၂၆ သန်း |
| | အသားတင်အမြတ် | - ကျပ် ၃၈.၃၀ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၁၂.၇၇ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၉.၁၈ သန်း |
| | အရင်းကြေကာလ | - ၉ နှစ် နှင့် ၄ လ |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄.၅% |
| ၁၂။ | နှစ်စဉ်လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၁,၀၀၀ kWh |
| ၁၃။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမမြောက်နှစ်) | |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (ပေါင်) | ရောင်းဈေးနှုန်း (ကျပ်/ ပေါင်) |
|---|---|---|
| မှိုင်းခံရာဘာပြား ၁ | ၇၈၀၀၀ | ၆၅၀ |
| မှိုင်းခံရာဘာပြား ၂ | ၆၂၀၀၀ | ၆၃၀ |
| မှိုင်းခံရာဘာပြား ၃ | ၅၃၀၀၀ | ၆၀၀ |
| မှိုင်းခံရာဘာပြား ၄ | ၆၇၀၀၀ | ၅၈၀ |
| မှိုင်းခံရာဘာပြား ၅ | ၂၂၀၀၀ | ၅၂၀ |
| ရာဘာအစေးခြောက် | ၄၅၀၀၀ | ၂၆၀ |

| | | |
|---|---|---|
| ၁၄။ | CSR | - လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility)အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | မီးဘေးကြိုတင်ကာကွယ်ရေး | - မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။ |
| ၁၆။ | **အခြားတင်ပြချက်** | - မြေအထောက်အထားအဖြစ် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော လယ်ယာမြေပုံစံ ၇ တင်ပြထားပါသည်။<br>- ရာဘာခြံများ အကျိုးတူခွဲဝေ ခံစားသည့် စာချုပ်(မူကြမ်း) များအပေါ် သဘောထားပြန်ကြားထားသည့် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။<br>- ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင် ချုပ်ဆိုထားသော စက်မှုဝန်ကြီးဌာန၊ |

| | | |
|---|---|---|
| | | အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၇)စက်မှု ကုန်ကြမ်းဌာန(ကျိုက်ထို) နှင့် ရာဘာခြံ ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ ဦးဟန်ဦး (Kaung Hein Zabu Co., Ltd.)တို့၏ နှစ်ဦးနှစ်ဖက် အကျိုးတူ ရာဘာစိုက်ပျိုး ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စာချုပ်(မူကြမ်း) တင်ပြထားပါသည်။<br>- ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ အမှတ်(၂)အကြီးစား စက်မှု လုပ်ငန်းကြီးကြပ်မှုရှိ ညောင်ချောင်းနှင့် ပေါင်-ကျုံက ရာဘာခြံ (၂)ခြံအား တင်ဒါအောင်မြင်သည့် ပုဂ္ဂလိက လုပ်ငန်းရှင် (၂)ဦးသို့ (၂၅+၅+၅)နှစ်ဖြင့် ရာဘာထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်ခွင့် အား ကော်မရှင်သို့ ဆက်လက် တင်ပြရန် ပြည်ထောင်စု ဝန်ကြီး၊ စက်မှုဝန်ကြီးဌာနသို့ (၁၈-၁၂-၂၀၁၅)ရက်စွဲပါ စာဖြင့် အကြောင်းကြားသည့်စာအား တင်ပြထားပါသည်။<br>- ကျပ်ငွေ အထောက်အထားအဖြစ် Kaung Hein Zabu Co., Ltd. အမည်ဖြင့် Global Treasure Bank Public Ltd. တွင် ၁၉-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၆၀,၀၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- ရာဘာထိန်းသိမ်း၊ အစေးလှီး၊ ပြန်စိုက် လုပ်ငန်း အတွက် ရှင်းလင်းချက် တင်ပြထားပါသည်။ |
| ၁၇။ | **စိစစ်တင်ပြချက်** | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဇ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ မ-၂၃၅/၂၀၁၆( ၅၁၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇူလိုင် လ ၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Hein Zabu Company Limited မှ အမှတ်(၂၇) စက်မှု ကုန်ကြမ်းဌာန (ကျိုက်ထို)၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ပေါင်-ကျုံက ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည် စိုက်ပျိုးခြင်း နှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Kaung Hein Zabu Company Limited (ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ ပေါင်-ကျုံက ရာဘာခြံ၊ ဦးပိုင်အမှတ်(၅၆)၊ နမ်းတစိတ်ကွင်း၊ အကွက်အမှတ်(၈၉၇)၊ နတ်ကြီးချောင်းကျေးရွာအုပ်စု၊ ဦးပိုင် အမှတ်(၉၅)၊ လက်ပံကွင်း၊ အကွက်အမှတ်(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N/၁၃၃)၊ ကျုံကနင်းကွင်း၊ အကွက်အမှတ်(၉၆၂)၊ ဆင်ရွာကျေးရွာအုပ်စု နှင့် ဦးပိုင်အမှတ်(၁၅၆)၊ ကော့မံဖယ် ကွင်း၊ အကွက်အမှတ်(၉၆၃)၊ အီဗြစ်ကျေးရွာအုပ်စုရှိ စုစုပေါင်း မြေဧရိယာ (၁,၀၀၉)ကေတွင် ရာဘာ အစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည် စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဟန်ဦး(အဘ-ဦးကောင်းအိုင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာကို ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၉/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်မည့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်း၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)ပိုင် မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ ပေါင်-ကျုံက ရာဘာခြံရှိ စုစုပေါင်း မြေအကျယ်အဝန်း ၁၀၀၉ ဧကတွင် Kaung Hein Zabu Company Limited မှ လုပ်ပိုင်ခွင့် ရရှိထားပြီးဖြစ်ပြီး အောက်ဖော်ပြပါ မြေနေရာများ ပါဝင်ပါသည်-

| စဉ် | တည်နေရာ | မြေ အမျိုးအစား | လက်ရှိ မြေဧက | ဆောင်ရွက် မည့်မြေဧက |
|---|---|---|---|---|
| (က) | ဦးပိုင်အမှတ်(၅၆)၊ နှမ်းတစိတ်ကွင်း၊ အကွက် အမှတ်(၈၉၇)၊ နတ်ကြီးချောင်း ကျေးရွာအုပ်စု | ဥယျာဉ်မြေ | ၅၄.၃၃ | ၅၃ |
| (ခ) | ဦးပိုင်အမှတ်(၉၅)၊ လက်ပံကွင်း၊ အကွက်အမှတ်(၉၂၆)၊ ကျခတ်ငူကျေးရွာ အုပ်စု | ဥယျာဉ်မြေ | ၃၂၄.၅၇ | ၃၂၂ |
| (ဂ) | ဦးပိုင်အမှတ်(N/၁၃၃)၊ ကျုံကနင်းကွင်း၊ အကွက်အမှတ်(၉၆၂)၊ ဆင်ရွာကျေးရွာ အုပ်စု | ဥယျာဉ်မြေ | ၆၁၄.၂၅ | ၃၉၅ |
| (ဃ) | ဦးပိုင်အမှတ်(၁၅၆)၊ ကော့မံဖယ်ကွင်း၊ အကွက်အမှတ်(၉၆၃)၊ အီဖြစ်ကျေးရွာ အုပ်စု | ဥယျာဉ်မြေ | ၃၆၁.၂၅ | ၂၃၉ |
| | **စုစုပေါင်း** | | | ၁၀၀၉ |

၃။ Kaung Hein Zabu Company Limited နှင့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်း၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)ပိုင် မွန်ပြည်နယ်၊ ပေါင် မြို့နယ်၊ သထုံခရိုင်ရှိ ပေါင်-ကျုံကရာဘာခြံအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့် အညီ ချုပ်ဆိုထားသည့် နှစ်ဦးနှစ်ဖက် အကျိုးတူ ရာဘာစိုက်ပျိုးထုတ်လုပ်မှုအပေါ် ခွဲဝေခံစား သည့် စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ်သက်တမ်းမှာ စာချုပ် အသက်ဝင်သော နေ့မှစ၍ (၂၅)နှစ် ဖြစ်သည်။ (စာချုပ်အပိုဒ် ၄)

(ခ) သက်တမ်းတိုးလိုပါက သတ်မှတ်ထားသော ခွင့်ပြုကာလ မကုန်ဆုံးမီ (၆)လ ကြိုတင်၍ Kaung Hein Zabu Company Limited သည် အမှတ်(၂၇)စက်မှု ကုန်ကြမ်းဌာနသို့ တင်ပြရမည်။ သက်တမ်းတိုး တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့်နိုင်သည်။ (စာချုပ်အပိုဒ် ၅- က၊ ခ)

(ဂ) သတ်မှတ်ကာလပြည့်သည့်နေ့တွင် အကျိုးတူ ပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသည့် မြေဧရိယာနှင့် အကျိုးတူ လုပ်ကိုင်ခွင့်ကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနက ပြန်လည် ရယူလုပ်ကိုင်မည်ဖြစ်သည်။ (စာချုပ်အပိုဒ် ၅-ဂ)

(ဃ) အစေးလှီးခြင်းလုပ်ငန်း (စာချုပ်အပိုဒ် ၆-က)

(၁) "အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန"က စိုက်ပျိုးထားရှိသည့် ရာဘာ အစေးလှီး ၆၀၉ ဧက၊ ၅၇၇၂၁ ပင်အား ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။[စာချုပ်အပိုဒ် ၆-က(၁)]

(၂) "ရာဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"က ခြံဝန်ထမ်း လုပ်ခလစာ၊ အစေးလှီး လုပ်ခများအပါအဝင် ထုတ်လုပ်မှု ကုန်ကျစရိတ်အားလုံးအတွက် ကျခံ၍ ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။[စာချုပ်အပိုဒ် ၆-က(၂)]

(၃) ထွက်ရှိလာသော ရာဘာ (မှိုင်းခံရာဘာ/ ခရမ့်ရာဘာ/ Cream)များကို သဘောတူထားသော အချိုးဖြစ်သည့် "အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန" က ၅၀% နှင့် ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"က ၅၀% ဖြင့် ခွဲဝေခံစား ကြရမည်။[စာချုပ်အပိုဒ် ၆-က(၃)]

(၄) အစေးလှီးလုပ်ငန်းတွင် ပေါင်-ကျုံက ရာဘာခြံအတွက် လျာထား ၅၀၇၆၀ ပေါင်အား ထုတ်လုပ်ရမည့် ပေါင်အဖြစ် သတ်မှတ်မည်။ [စာချုပ်အပိုဒ် ၆-က(၄)]

(င) ထိန်းသိမ်းလုပ်ငန်း(စာချုပ်အပိုဒ် ၆-ခ)

(၁) "အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန"က ပေါင်-ကျုံက ရာဘာခြံတွင် စိုက်ပျိုးထားရှိသည့် ရာဘာ ၂၆၅ ဧက နှင့် ၅၁၅၄၂ ပင်အား ရင်းနှီးမြှုပ်နှံမှု အဖြစ် ထည့်ဝင်မည်။[စာချုပ်အပိုဒ် ၆-ခ(၁)]

(၂) "ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ" အနေဖြင့် ထိန်းသိမ်း ရာဘာပင် များကို ပြုစုထိန်းသိမ်းခြင်း၊ အစေးလှီးခြင်း အပါအဝင် ထုတ်လုပ်မှု ကုန်ကျစရိတ်အားလုံးကို ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်မည်။ [စာချုပ်အပိုဒ် ၆-က(၂)]

(၃) အစေးလှီးချိန် ရောက်လျှင် ထွက်ရှိလာသော ရာဘာ (မှိုင်းခံရာဘာ/ ခရမ့်ရာဘာ/ Cream)များကို သဘောတူထားသော အချိုးဖြစ်သည့် "အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန"က ၄၀% နှင့် ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"က ၆၀% ဖြင့် ခွဲဝေခံစားကြရမည်။ [စာချုပ်အပိုဒ် ၆-ခ(၃)]

(ဂ) ပြန်စိုက်လုပ်ငန်း(စာချုပ်အပိုဒ် ၆-ဂ)

(၁) "အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"မှ မြေ ၁၃၅ ဧကကို ရင်းနှီးမြှုပ်နှံမှု အဖြစ် ထည့်ဝင်ပြီး "ရာဘာစိုက်ပျိုး လုပ်ကိုင်ခွင့်ရသူ"က စိုက်ပျိုး/ ထိန်းသိမ်း/ ထုတ်လုပ် ကုန်ကျစရိတ်အားလုံးကို ရင်းနှီးမြှုပ်နှံမှု အဖြစ် ထည့်ဝင်မည်။[စာချုပ်အပိုဒ် ၆-ဂ(၁)]

(၂) ပြန်စိုက်လုပ်ငန်း လုပ်ကိုင်မည့် ပေါင်-ကျုံက ရာဘာခြံတွင် မြေလွတ် ၁၃၅ ဧက ဖြစ်ပါသည်။[စာချုပ်အပိုဒ် ၆-ဂ(၂)]

(ဃ) လုပ်ငန်း ၃ မျိုးအရ အကျိုးတူရာဘာ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော ဧရိယာ စုစုပေါင်းမှာ ၁၀၀၉ ဧက ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၇)

(င) စာချုပ် သက်တမ်းပြည့်သည့်နေ့တွင် စိုက်ပျိုး မြေဧရိယာ နှင့် အကျိုးတူ လုပ်ကိုင်ခွင့်ကို ပြန်လည် လက်ခံရယူရန်နှင့် ယင်းမြေပေါ်ရှိ ရာဘာပင်အိုများကို ခုတ်လှဲရှင်းလင်းခအား ရာဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူမှ ကျခံ၍ ရာဘာ ပင်အို စုစုပေါင်း၏ ၃၀ ရာခိုင်နှုန်းအား အမှတ်(၂၇)စက်မှု ကုန်ကြမ်းဌာနက ခုတ်ယူ ပိုင်ဆိုင်၍ ၇၀ ရာခိုင်နှုန်းအား စိုက်ပျိုးလုပ်ကိုင်ခွင့်ရသူသို့ ခုတ်ယူ ပိုင်ဆိုင် ခွင့်ပြုမည်။ (စာချုပ်အပိုဒ် ၈-ဂ)

(စျ) စာပိုဒ် ၇ ပါ စိုက်ပျိုးမြေဧရိယာများအတွက် လုပ်ငန်းအာမခံကြေး ကျပ် ၁၉၈.၄၉ သန်း (ကျပ်တစ်ရာကိုးဆယ့်ရှစ်သန်းလေးသိန်းကိုးသောင်းတိတိ)ကို ပေးသွင်းရမည်။ လုပ်ငန်းအာမခံကြေးငွေ၏ ၂၀% ကို စာချုပ်ရေးထိုးပြီး တစ်ပတ်အတွင်း ၅၀% ကို တစ်လအတွင်း၊ ၃၀% ကို နှစ်လအတွင်း အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။ သတ်မှတ်ကာလအတွင်း ပေးသွင်းခြင်း မရှိပါက ရက်သတ္တပတ် နောက်ကျတိုင်း ပေးသွင်းရမည့် တန်ဖိုး၏ တစ်ရာခိုင်နှုန်းကို ငွေသားဖြင့် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။ တစ်ပတ်

မပြည့်ဘဲ ရက်စွန်းလျှင်လည်း ပေးသွင်းရမည့် တန်ဖိုး၏ တစ်ရာခိုင်နှုန်းကို ငွေသား ဖြင့် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၉-က)

(ည) စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေဧရိယာပေါ်တွင် နိုင်ငံတော်ပိုင် စီမံကိန်းဝင် ရာဘာပင်များကို ခွင့်ပြုချက် မရဘဲခုတ်လှဲခဲ့ပါက ၎င်းရာဘာပင်များ၏ တန်ဖိုး ကို အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ ဗဟိုလုပ်ငန်းကြီးကြပ်မှု ကော်မတီက သတ်မှတ်ပေးသည့် ဈေးနှုန်းအတိုင်း ပြန်လည် ပေးလျော်ရမည်။ (စာချုပ်အပိုဒ် ၉-ဂ)

(ဋ) ရာဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူက လအလိုက် စုစုပေါင်း ရာဘာထွက်ရှိမှု၏ ၅၀ ရာခိုင်နှုန်းကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနသို့ ၁၅ ရက်တစ်ကြိမ်စီ နှစ်ကြိမ်ခွဲ၍ လစဉ်မပျက်မကွက် ပေးသွင်းရမည်။ လစဉ်ပေးသွင်းရန် ပျက်ကွက်ပါက ပျက်ကွက်သည့်လမှစ၍ ဤစာချုပ်ရပ်စဲသည်ဟုမှတ်ယူပြီး စိုက်ပျိုး လုပ်ကိုင်ခွင့် ရသော ဧရိယာကို အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနက လက်ရှိအနေအထား အတိုင်း ပြန်လည် သိမ်းယူမည်ဖြစ်သည်။(စာချုပ်အပိုဒ် ၉-ဠ)

၄။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ ကျပ် ၄၇၀.၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ် ၇၀.၀၀ သန်း တန်ဖိုးကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ် ကြောင်း တင်ပြထားပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | - ကျပ် ၄၀၀.၀၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာ/ လုပ်ငန်းသုံးပစ္စည်း | - ကျပ် ၇၀.၀၀ သန်း |
| | **စုစုပေါင်းမတည်ငွေရင်း** | **- ကျပ် ၄၇၀.၀၀ သန်း** |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၈)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁၈၂,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် မှိုင်းခံရာဘာပြား နှင့် ရာဘာအစေးခြောက်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-



Kaung Hein (MIC memo).doc

| စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (ပေါင်) | ရောင်းဈေးနှုန်း (ကျပ်/ ပေါင်) |
|---|---|---|---|
| (က) | မှိုင်းခံရာဘာပြား ၁ | ၇၈၀၀၀ | ၆၅၀ |
| ( ခ ) | မှိုင်းခံရာဘာပြား ၂ | ၆၂၀၀၀ | ၆၃၀ |
| ( ဂ ) | မှိုင်းခံရာဘာပြား ၃ | ၅၃၀၀၀ | ၆၀၀ |
| (ဃ) | မှိုင်းခံရာဘာပြား ၄ | ၆၇၀၀၀ | ၅၈၀ |
| ( င ) | မှိုင်းခံရာဘာပြား ၅ | ၂၂၀၀၀ | ၅၂၀ |
| ( စ ) | ရာဘာအစေးခြောက် | ၄၅၀၀၀ | ၂၆၀ |

၇။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၁၈၃.၅၆ သန်း

(ခ) အသုံးစရိတ် - ကျပ် ၁၄၅.၂၆ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၃၈.၃၀ သန်း

၈။ နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါ အတိုင်း ဖြစ်ပါသည်။

(က) ကုန်သွယ်လုပ်ငန်းခွန်(၅%) ကျပ် ၉.၁၈ သန်း

(ခ) ဝင်ငွေခွန် (၂၅%) ကျပ် ၁၂.၇၇ သန်း

၉။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၉ နှစ် နှင့် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၄.၅ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှု မရှိခြင်း၊ ပြည်သူတို့၏ လူမှု စီးပွားရေးကို ထိခိုက်နိုင်မှု မရှိခြင်း၊ ဒေသခံများမှ လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်မှုမရှိခြင်း၊ စက်ရုံတည်ဆောက်ပြီးပါက မြို့နယ်ဒေသခံ ပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ

စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်ခြင်းနှင့် ကျေးရွာများ အနေဖြင့် လမ်းပန်းဆက်သွယ်ရေးများ ကောင်းမွန်လာနိုင်သည့် လုပ်ငန်း (၁)ခု ဖြစ်သည့်အတွက် ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

**(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ** အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာ ရေးသား တင်ပြရန်၊

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ ရေဆိုး စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါ ဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

**(နောက်ဆက်တွဲ- ခ)**

**[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထား မှတ်ချက်နှင့်အညီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ရေးဆွဲတင်ပြမည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဂ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုတင်ပြလာသောမြေနေရာသည် ၂၀၁၂ ခုနှစ်၊ လယ်ယာမြေ ဥပဒေအရ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနအမည်ဖြင့် လယ်ယာမြေ လုပ်ကိုင်ခွင့်ပြုလက်မှတ်ပုံစံ(၇) ရရှိထားပြီးဖြစ်သည့်အတွက် လယ်ယာမြေ ဥပဒေပုဒ်မ (၁၂) လယ်ယာမြေ လုပ်ပိုင်ခွင့်ရရှိသူ လိုက်နာရမည့် စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-ဂ)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Kaung Hein Zabu Co., Ltd. အမည်ဖြင့် Global Treasure Bank Public Ltd. တွင် ၁၉-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၆၀,၀၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်း၏ ရာဘာထိန်းသိမ်း၊ အစေးလှီး၊ ပြန်စိုက်လုပ်ငန်းအတွက် ရှင်းလင်းချက်၊ ကုမ္ပဏီမှ ဆောင်ရွက်မည့် ရာဘာခြံစိုက်ကွင်း လုပ်ငန်းများ အဆင့်ဆင့်၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်၍ ပြဋ္ဌာန်းသတ်မှတ်ထားသည့် စည်းကမ်းဥပဒေများကို လိုက်နာမည်ဖြစ်ပါကြောင်း၊ ရာဘာစိုက်ပျိုး ထုတ်လုပ်ရာတွင် သက်ဆိုင်ရာဝန်ကြီးဌာန၏ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ အလုပ်သမားများ၏ လစာဝင်ငွေ တစ်နှစ်လျှင် ကျပ် ၄၈,၀၀၀,၀၀၀/- ကျော်ပါကဝင်ငွေခွန်ကို တည်ဆဲဥပဒေအရ ဖြတ်တောက်၍ အခွန်ဌာနသို့ ပေးသွင်းမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်

ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၃။ နှစ်စဉ်လျှပ်စစ်ဓာတ်အားကို ၁,၀၀၀ kWh အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဇ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Hein Zabu Company Limited မှ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ပေါင်-ကျုံကရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



Kaung Hein (MIC memo).doc

နောက်ဆက်တွဲ(က)

MIC, 148
2213




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ် ၊ ၃၀၀ / ၁ - ၆၉/ ၀၁၇ (မွန်)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁) ၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၉-၃-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂ / မ - ၂၇၅ / ၂၀၁၆ (၂၁၃)

၁။ ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီလီမိတက် မှ ရခိုင်ရှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အမှတ် (၂၇) စက်မှုကုန်ကြမ်းဌာန (ကျိုက်ထို)၊ အမှတ် (၂)အကြီးစားစက်မှုလုပ်ငန်း ၊ စက်မှုဝန်ကြီးဌာနပိုင် ရော်ဘာခြံအား စိုက်ပျိုးထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် အောက်ဖော်ပြပါဧရိယာများတွင် **ရာဘာအစေးလှီးခြင်း ၊ ထိန်းသိမ်းခြင်း ၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရော်ဘာပြား ထုတ်လုပ်ခြင်း လုပ်ငန်း**ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခဲ့ပါသည်-

| | | |
|---|---|---|
| (က) | ပေါင်မြို့နယ်၊ ပေါင် -ကျုံကရော်ဘာခြံ၊ အကွက်အမှတ်(-) ကျုံကခြံခွဲ ၊ ပေါင်ခြံခွဲ ၊ ကော့မံဖယ်ကွင်း (၉၆၃)ရှိမြေ(၃၆၁. ၂၅) ဧကအနက် မြေ (၂၇၉)ဧက | = ၂၇၉. ၀၀ ဧက |
| ( ခ) | ကျုံကနင်းကွင်း (၉၆၂)ရှိ မြေ(၆၀၄. ၂၁)ဧကအနက်(၃၉၅)ဧက | = ၃၉၅. ၀၀ ဧက |
| ( ဂ) | လက်ပံကွင်း (၉၂၆)ရှိ မြေ (၃၂၄. ၅၇)ဧကအနက်(၃၂၂)ဧက | = ၃၂၂. ၀၀ ဧက |
| (ဃ) | နှမ်းတစ်စိတ်ကွင်း(၈၉၇)ရှိ မြေ(၅၄. ၃၃)ဧကအနက် (၅၃. ၀၀)ဧက | = ၅၃. ၀၀ ဧက |
| | **စုစုပေါင်းမြေဧရိယာ** | **= ၁၀၀၉. ၀၀ ဧက** |

၂။ ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီလီမိတက် မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း(၇) ၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ စဉ်းစားရာတွင် သက်ဆိုင်ရာ ပြည်နယ်/တိုင်းဒေသကြီးအစိုးရ၏ သဘောထားကို ရယူရန်လိုအပ်ကြောင်း ၊ သက်ဆိုင်ရာဝန်ကြီးချုပ်ကိုယ်တိုင်စိစစ်ထောက်ခံပေးနိုင်ပါရန် အောက်ပါ သဘောထားမှတ်ချက်နှင့်အတူ ရက်သတ္တပတ် တစ်ပတ်အတွင်းပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာပြီးကွင်းဆင်းစိစစ်ရေးအဖွဲ့မှ အောက်ပါအတိုင်းတင်ပြလာပါသည် -

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည်နှောင့်ယှက်ပြုလုပ်မည့် သို့မဟုတ် လက်ရှိ မြို့ပြစီမံကိန်းက ထိခိုက်ခြင်း **(မရှိပါ)**

( ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် **အထောက်အကူ (ဖြစ်ပါသည်)**

( ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း **(ရှိပါသည်)**

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာ **(အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်ပုံစံ(၇)ထုတ်ပေးပြီး မှန်ကန်ပါသည်)**

( င) ပြည်နယ်အစိုးရအဖွဲ့၏ အကြံပြုချက်အနေဖြင့် **(စီမံချက်ပါကာလအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါ)**

၃။ သို့ဖြစ်ပါ၍ ကောင်းဟိန်းဇေမ္ဗူ ကုမ္ပဏီလီမိတက် မှ **ရော်ဘာအစေးလှီးခြင်း ၊ ထိန်းသိမ်းခြင်း ၊ ပြန်လည်စိုက်ပျိုးခြင်း နှင့် မှိုင်းခံရော်ဘာပြား ထုတ်လုပ်ခြင်းလုပ်ငန်းအား** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်း နှင့် ပတ်သက်၍ နှောင့်ယှက်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိခြင်း၊ ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုမရှိခြင်း ၊ ဒေသခံများမှ လူမှုရေး ၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်မှုမရှိခြင်း ၊ လက်ရှိတည်ဆောက်ပြီးပါက မြို့နယ်ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်ခြင်း နှင့် ကျေးရွာများအနေဖြင့် လမ်းပန်းဆက်သွယ်ရေးများကောင်းမွန်လာနိုင်သည့် လုပ်ငန်း (၁) ခုဖြစ်သည့်အတွက် (၁၇-၃-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် **မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၇)အရ ကန့်ကွက်ရန်မရှိကြောင်းသဘောထား** ပြန်ကြားပါသည်။

ဦးအုန်းမြင့်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်

ပြည်ထောင်စုဝန်ကြီးရုံး၊ စက်မှုဝန်ကြီးဌာန၊ နေပြည်တော်

ပြည်ထောင်စုဝန်ကြီးရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ နေပြည်တော်

ကောင်းဟိန်းဇေမ္ဗူ ကုမ္ပဏီလီမိတက်

ရုံးလက်ခံစာတွဲ/မျှောစာတွဲ

E/CAB30

နောက်ဆက်တွဲ(ခ)




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၁၄/၁၆ )
ရက် စွဲ ၂၀၁၆ခုနှစ် မတ် လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ITC, 151 28/3

အကြောင်းအရာ။ **Kaung Hein Zabu Company Limited မှ ရာဘာအစေးလှီးခြင်းထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့်မှိုင်းခံရာဘာပြား ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၅/ ၂၀၁၆(၂၁၅)

၁။ Kaung Hein Zabu Company Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန (ကျိုက်ထို)၊ အမှတ်(၂)အကြီးစားလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင်ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ ပေါင်-ကျုံက ရာဘာခြံ၊ အကွက်အမှတ်- ကျုံကခြံခွဲ၊ ပေါင်ခြံခွဲ၊ ကော့မံဖယ်ကွင်း(၉၆၃)ရှိ မြေ ၃၆၁.၂၅ကေအနက် မြေ၂၃၉ကေ၊ ကျုံကနင်းကွင်း(၉၆၂)ရှိ မြေ ၆၁၄.၂၁ကေအနက် မြေ ၃၉၅ကေ၊ လက်ပံကွင်း(၉၆၂)ရှိ မြေ ၃၂၄.၅၇ကေအနက် မြေ ၃၂၂ ကေနှင့်ကွင်းအမှတ် နှမ်းတစ်စိတ်ကွင်း(၈၉၇)ရှိ မြေ ၅၄.၃၃ကေအနက် မြေ ၅၃ ကေ စုစုပေါင်း မြေဧရိယာ ၁၀၀၉ ကေတွင် ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြားထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၂၅)နှစ်နှင့်သက်တမ်းတိုး(၅)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မည့်အစီအစဉ်၊ လုပ်သားများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်

သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ရာဘာခြံများမှထွက်ရှိလာမည့် အမှိုက်များကို စနစ်တကျထုပ်ပိုး၍ မြို့နယ်စည်ပင်သာယာရေးမှသတ်မှတ်သည့်နေရာတွင် စွန့်ပစ်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများနှင့်ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Kaung Hein Zabu Company Limited မှ ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း၊ မှိုင်းခံရာဘာများထုတ်လုပ်ခြင်း လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် အသုံးပြုမည့် ပိုးသတ်ဆေးနှင့်ဓာတ်မြေဩဇာများသည် ပတ်ဝန်းကျင်၌ကြာရှည်စွာတည်ရှိနိုင်ပြီး ရေ၌ပျော်ဝင်မှုနည်းပါးကာ ပါဝင်သော Chemical Composition များအပေါ်မူတည်၍ အစာကွင်းဆက်များအတွင်းရောက်ရှိကာ ပတ်ဝန်းကျင်ရှိတိရစ္ဆာန်များအား ထိခိုက်စေနိုင်ခြင်း မြေကြီးအတွင်းသို့စိမ့်ဝင်ရာမှ မြေအောက်ရေထုနှင့်မြေထုအား ညစ်ညမ်းစေခြင်း၊ ပိုးသတ်ဆေးများအား စနစ်တကျကိုင်တွယ်အသုံးပြုခြင်းမရှိပါက အလုပ်သမားများအားကျန်းမာရေး ထိခိုက်စေနိုင်ခြင်း၊ ရာဘာပြားများမှိုင်းခံထုတ်လုပ်ရာမှထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊ စွန့်ပစ်အရည်/အစိုင်အခဲများကြောင်း နီးစပ်ရာချောင်း၊ မြေထုနှင့်ရေထု ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kaung Hein Zabu Company Limited မှ ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်း၊ မှိုင်းခံရာဘာပြားများထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု

လွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း( Initial Environmental Examination–IEE)**ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ ရေဆိုးစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP)**ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁ / KHZ (၆၈/၂၀၁၆)(လဆ)
ရက်စွဲ၊၂၀၁၆ ခုနှစ်၊ ဧပြီလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉. ၃. ၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၃၅/ ၂၀၁၆ (၂၁၄)

၁။ Kaung Hein Zabu Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနပိုင် ရာဘာခြံအား စိုက်ပျိုးထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ သထုံခရိုင်၊ ပေါင်-ကျုံကရာဘာခြံ၊ အကွက်အမှတ်-ကျုံကခြံခွဲ၊ ပေါင်ခြံခွဲ၊ ကော့မံဖယ်ကွင်း(၉၆၃)ရှိ မြေ(၃၆၁.၂၅)ကေအနက်မြေ(၂၃၉)ကေ၊ ကျုံကနင်းကွင်း(၉၆၂)ရှိမြေ(၃၂၂)ကေနှင့် ကွင်းအမှတ်နှမ်းတစိတ်ကွင်း(၉၈၇) ရှိ မြေ(၅၄.၃၃)ကေ အနက်မြေ(၅၃)ကေ စုစုပေါင်း မြေဧရိယာ(၁,၀၀၉)ကေတွင် ရာဘာအစေးလှီးခြင်း၊ ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြားထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ အဆိုပြုတင်ပြလာသည့်ကိစ္စ နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် MIC မှ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန သို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြလာသော မြေနေရာသည် ၂၀၁၂ခုနှစ်၊ လယ်ယာမြေဥပဒေအရ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာနအမည်ဖြင့် လယ်ယာမြေလုပ်ကိုင်ခွင့်ပြုလက်မှတ်ပုံစံ(၇) ရရှိထားပြီးဖြစ်သည့်အတွက် လယ်ယာမြေဥပဒေပုဒ်မ(၁၂) လယ်ယာမြေလုပ်ပိုင်ခွင့်ရရှိသူ လိုက်နာရမည့်စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ